အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Denko Trading Co., Ltd. မှ စက်သုံးဆီ သိုလှောင်ဖြန့်ဖြူးရောင်းချသည့် သိုလှောင်ရေးစခန်း တည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Denko Trading Co., Ltd. |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | -မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - စက်သုံးဆီ သိုလှောင် ဖြန့်ဖြူးရောင်းချသည့်သိုလှောင်ရေးစခန်း တည်ဆောက်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ကနောင်မင်းသားကြီးလမ်း၊ ရွှေလင်ပန်းစက်မှုဇုန်ရှိ မြေတိုင်းရပ်ကွက်အမှတ်(၁၅)၊ မြေကွက်အမှတ် (၁) |
| | မြေအကျယ်အဝန်း | - မြေ(၇)ဧက |
| | မြေပိုင်ရှင် | - Denko Trading Co., Ltd. |
| ၃။ | စုစုပေါင်း မတည်ငွေရင်း<br>**ထည့်ဝင်သည့် အမျိုးအစား** | - ကျပ်၅,၉၅၁.၇၅သန်း(အမေရိကန်ဒေါ်လာ ၃.၇၃၃ သန်း အပါအဝင်) |

| | ပြည်တွင်း ကျပ်(သန်း) | ပြည်ပ US$(သန်း) | ညီမျှသော မြန်မာငွေ ကျပ်(သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|
| ငွေသား | ၄၇၉.၂၇ | | | ၄၇၉.၂၇ |
| Civil Work | ၉၉၃.၁၃ | ၀.၆၉၃ | ၈၃၁.၆၀ | ၉၉၃.၁၃ |
| Mechanical Work | | ၂.၄၄၇ | ၂,၉၃၆.၄၀ | |
| Electrical Work | | ၀.၅၉၃ | ၇၁၁.၆၀ | |
| **စုစုပေါင်း** | **၁,၄၇၂.၄၀** | **၃.၇၃၃** | **၄,၄၇၉.၆၀** | **၅,၉၅၂.၀၀** |

| | | |
|---|---|---|
| ၄။ | ဝန်ထမ်းအင်အား(ပထမနှစ်) | - ၁၅၀ ဦး |
| | ပြည်တွင်း | - ၁၅၀ ဦး ဝန်ထမ်းလစာ အမြင့်ဆုံး ကျပ် ၈၀၀,၀၀၀<br>အနိမ့်ဆုံး ကျပ် ၁၂၀,၀၀၀ |
| | ပြည်ပ | - မရှိပါ |
| ၅။ | တည်ဆောက်မည့် ဆီသိုလှောင်ကန်စုစုပေါင်း | - ၅ လုံး |

| **အမျိုးအစား** | **ဝင်ဆံ့ဂါလံ** | **အချင်း** | **အမြင့်** | **အရေအတွက်** |
|---|---|---|---|---|
| Fire Water Tank | ၁၁၃,၃၀၀ | ၂၈′ | ၂၆′ | ၁ လုံး |
| Oil Tank (92,95,97) | ၁၅၀,၀၀၀ | ၃၁′ ၁၀″ | ၃၁′ ၆″ | ၃ လုံး |
| Oil Tank (HSD, PD) | ၁၅၀,၀၀၀ | ၃၁′ ၁၀″ | ၃၁′ ၆″ | ၂ လုံး |

| | | |
|---|---|---|
| ၆။ | နှစ်စဉ်ပျမ်းမျှ ရရှိသည့် ဝန်ဆောင်မှု<br>တစ်လ ခန့်မှန်းရရှိငွေ<br>ဂါလံ(၇၅၀,၀၀၀)*၉ ကျပ်*၅ ကြိမ်*၁ လ<br>တစ်နှစ် ခန့်မှန်းရရှိငွေ | ၃၃,၇၅၀,၀၀၀ ကျပ်<br><br>၄၀၅,၀၀၀,၀၀၀ ကျပ် |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ မရက- ၅(စ)/ခ-၀၀၇/၂၀၁၇( ၄၉၉ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် နိုဝင်ဘာလ ၇ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Denko Trading Co., Ltd. မှစက်သုံးဆီ သိုလှောင်ဖြန့်ဖြူးရောင်းချသည့် သိုလှောင်ရေးစခန်း တည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Denko Trading Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ကနောင်မင်းသားကြီးလမ်း၊ ရွှေလင်ပန်းစက်မှုဇုန်ရှိ မြေတိုင်းရပ်ကွက် အမှတ်(၁၅)၊ မြေကွက်အမှတ် (၁)ရှိ မြေ ၇ ဧကတွင် စက်သုံးဆီသိုလှောင်ဖြန့်ဖြူးရောင်းချသည့် သိုလှောင်ရေးစခန်း တည်ဆောက်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ ရွှေလင်ပန်းစက်မှုဇုန်ရှိ စက်သုံးဆီသိုလှောင်စခန်း၏ အဆောက်အဦ layout plan နှင့် တည်နေရာပြမြေပုံများအား တင်ပြထားပါသည်။ ရန်ကုန်တိုင်းဒေသကြီး ရေနံထွက်ပစ္စည်းများ တင်သွင်း သိုလှောင် သယ်ယူချက်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများ ထိန်းသိမ်းကြီးကြပ်ရေး ဆပ်ကော်မတီမှ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိကြောင်းစာအား ၂၀၁၇ ခုနှစ် ဇွန်လ ၂၉ ရက်နေ့ရက်စွဲဖြင့် တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်း ပမာဏမှာ အမေရိကန် ဒေါ်လာ ၃.၇၃၃ သန်းအပါအဝင် စုစုပေါင်း ကျပ် ၅,၉၅၂ သန်း ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **ထည့်ဝင်သည့်အမျိုးအစား** | ပြည်တွင်း ကျပ်(သန်း) | ပြည်ပ US$ (သန်း) | ညီမျှသော မြန်မာငွေ ကျပ်(သန်း) | စုစုပေါင်း ကျပ် (သန်း) |
|---|---|---|---|---|
| ငွေသား | ၄၇၉.၂၇ | | | ၄၇၉.၂၇ |
| Civil Work | ၉၉၃.၁၃ | ၀.၆၉၃ | ၈၃၁.၆၀ | ၁,၈၂၄.၇၃ |
| Mechanical Work | | ၂.၄၄၇ | ၂,၉၃၆.၄၀ | ၂,၉၃၆.၄၀ |
| Electrical Work | | ၀.၅၉၃ | ၇၁၁.၆၀ | ၇၁၁.၆၀ |
| **စုစုပေါင်း** | **၁,၄၇၂.၄၀** | **၃.၇၃၃** | **၄,၄၇၉.၆၀** | **၅,၉၅၂.၀၀** |

၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၁၅၀ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ၁၂၀,၀၀၀ ကျပ်ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ၈၀၀,၀၀၀ ကျပ်ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ဆီသိုလှောင်ကန်ငှားရမ်းခအဖြစ် ပျမ်းမျှတစ်လလျှင် ရရှိမည့် ခန့်မှန်းရရှိငွေမှာ ကျပ် ၃၃,၇၅၀,၀၀၀ ဖြစ်ပြီး သိုလှောင်မည့် ဆီသိုလှောင်ကန် အမျိုးအစားများအား အောက်ပါအတိုင်း တင်ပြထားပါသည်-

| | အမျိုးအစား | ဝင်ဆံ့ဂါလံ | အချင်း | အမြင့် | အရေအတွက် |
|---|---|---|---|---|---|
| (က) | Fire Water Tank | ၁၁၃,၃၀၀ | ၂၈′ | ၂၆′ | ၁ လုံး |
| (ခ) | Oil Tank (92,95,97) | ၁၅၀,၀၀၀ | ၃၁′ ၁၀″ | ၃၁′ ၆″ | ၃ လုံး |
| (ဂ) | Oil Tank (HSD, PD) | ၁၅၀,၀၀၀ | ၃၁′ ၁၀″ | ၃၁′ ၆″ | ၂ လုံး |

၆။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနနှင့် သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များအား **နောက်ဆက်တွဲ-ကနှင့်ခ**တို့ဖြင့် တင်ပြထားပါသည်။

၇။ ငွေကြေးအထောက်အထားအဖြစ် Denko Trading Company Limited အမည်ဖြင့်မှ ၂-၈-၂၀၁၇ ရက်စွဲဖြင့် Myanmar Apex Bank တွင် ကျပ် ၄၁၅,၃၄၇,၅၀၃.၆၇ ရှိကြောင်း အထောက်အထား၊ ၁၅-၈-၂၀၁၇ ရက်စွဲဖြင့် Myanmar Apex Bank တွင် အမေရိကန်ဒေါ်လာ ၂၀၅,၅၁၆.၉၇ ရှိကြောင်း အထောက် အထားများ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ နှင့်အညီလိုက်နာဆောင်ရွက်မည့်အစီအစဉ်နှင့် မီးဘေးလုံခြုံရေးစနစ်များအား တင်ပြထားပါသည်။

၈။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်း ဆောင်ရွက်ခွင့်ကို ၂၀၁၇ ခုနှစ် အောက်တိုဘာလ ၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၂၇/၂၀၁၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၉။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ အောက်ပါ အတိုင်း စိစစ်တင်ပြအပ်ပါသည် -

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အမိန့်ကြော်ငြာ စာအမှတ်-၁၃/၂၀၁၇ အရ ဦးစားပေး မြှင့်တင်မည့် ရင်းနှီး မြှုပ်နှံမှုစာရင်းတွင် မပါဝင်သဖြင့် ဝင်ငွေခွန်ကင်းလွတ်ခွင့် ခံစားခွင့် မရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် ပင်လယ်ကူးသင်္ဘောဖြင့် သယ်ယူထားသော သီလဝါရှိစက်သုံးဆီများ ကို ရွှေလင်ပန်းတွင် ထပ်ဆင့်သိုလှောင်စခန်းထားရှိ၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင် ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဂ) အဆိုပြုလုပ်ငန်းနှင့် လုပ်ငန်းချင်းဆက်စပ်လျက်ရှိသည့် Denko Petrochemical Management Company Limited မှ BOT စနစ်ဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းမြို့နယ်၊ သီလဝါ ဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၁၇)/(၁၈-ဘီ)-မြေ(၂၄.၇၁) ဧကတွင် စက်သုံးဆီ တင်/ချဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ပြီး စက်

သုံးဆီ သိုလှောင်သည့် ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် အမှတ် မနသ-၉၃၀/၂၀၁၄(၇-၂-၂၀၁၄)ဖြင့် ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Denko Trading Co., Ltd. မှ စက်သုံးဆီ သိုလှောင်ဖြန့်ဖြူးရောင်းချသည့် သိုလှောင်ရေးစခန်း တည်ဆောက်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဉက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ



M4-1012
31.10.17

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

(နောက်ဆက်တွဲ - က)

စာအမှတ် ၊ စွမ်းအင်/မူဝါဒ-ဥပဒေ-လုပ်ငန်းစစ်/၀၁/( ၄၀၅ )/၂၀၁၇
ရက် စွဲ ၊ ၂၀၁၇ ခုနှစ် ၊ အောက်တိုဘာလ ၃၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀-၁၀-၂၀၁၇ ရက်စွဲပါစာအမှတ် ၊ မရက-၅(စ)/အ-၀၀၁/၂၀၁၇(၄၇၃)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Denko Trading Co.,Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ကနောင်မင်းသားကြီးလမ်း၊ ရွှေလင်ပန်းစက်မှုဇုန်ရှိ မြေတိုင်းရပ်ကွက်အမှတ်(၁၅)၊ မြေကွက်အမှတ်(၁) ရှိ မြေ ၇ ဧကတွင် စက်သုံးဆီသိုလှောင်ဖြန့်ဖြူးရောင်းချသည့် သိုလှောင်ရေးစခန်း တည်ဆောက်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလျှောက်ထားခဲ့သည့်အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ သို့ဖြစ်ပါ၍ Denko Trading Co., Ltd အနေဖြင့် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်းမှ စိစစ်အတည်ပြုထားသည့် Layout Plan ၊ Design & Detail Drawing များအတိုင်း တည်ဆောက်ပြီး ရေနံနှင့်ရေနံထွက်ပစ္စည်းဆိုင်ရာဥပဒေနှင့်အညီ လုပ်ငန်းလိုင်စင်များ ရယူဆောင်ရွက်သွားရန်ဖြစ်ပါကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

30.10

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ဌေးအောင်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ရေနံနှင့်သဘာဝဓာတ်ငွေ့စီမံရေးဦးစီးဌာန
မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း



M4-0993
23.10.17

(နောက်ဆက်တွဲ - ခ)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS) /၀၁ (၁၈၃/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် အောက်တိုဘာလ ၂၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Denko Trading Company Limited. မှ စက်သုံးဆီ သိုလှောင်ဖြန့်ဖြူးရောင်းချသည့် သိုလှောင်ရေးစခန်း တည်ဆောက်ခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ ၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉-၁၀-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(စ)/ အ-၀၀၁/ ၂၀၁၇ (၄၇၂)

၂။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီးညွှန်ကြားရေးမှူးရုံး၏ (၁၅-၈-၂၀၁၇) ရက်စွဲပါစာအမှတ်၊ ရက-၁/၃/၄(EIA)(၆၀၉/၂၀၁၇)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Denko Trading Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ကနောင်မင်းသားကြီးလမ်း၊ ရွှေလင်ပန်းစက်မှုဇုန်ရှိ မြေတိုင်းရပ်ကွက်အမှတ်- ၁၅၊ မြေကွက်အမှတ်- ၁ ရှိ မြေ ၇ ဧက (၂၈,၃၂၇.၉၉ စတုရန်းမီတာ) တွင် စက်သုံးဆီ သိုလှောင် ဖြန့်ဖြူးရောင်းချသည့်သိုလှောင်ရေးစခန်း တည်ဆောက်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်သွားမည်ဖြစ်ကာ တည်ဆောက်ရေးကာလမှာ (၂) နှစ်ဖြစ် ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းကို ၂၈,၃၂၇.၉၉ စတုရန်းမီတာရှိမြေပေါ်တွင် စက်သုံးဆီဂါလံ (၁၅၀၀၀၀) ဆံ့သည့် သိုလှောင်ကန် (၅) လုံး၊ Jetty Office၊ Generator၊ Electrical & Control Room၊ Filling Station၊ Security House၊ Canteen Office နှင့် Toilet (၁) လုံးစီ တည်ဆောက်သွားမည်ဖြစ်ပြီး၊ တည်ဆောက်ပြီး Jetty ကိုပြုပြင်ခြင်းလုပ်ငန်းဆောင်ရွက်ကာမီးဘေးလုံခြုံရေးအတွက် Fire Water Tank (၁) ခု တည်ဆောက်ပြီး လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းအတွက် သိုလှောင်မည့် စက်သုံးဆီအား ပင်လယ်ကူးသင်္ဘောများဖြင့် သယ်ယူထားသည့် သီလဝါရှိ သိုလှောင်ကန်မှ တစ်ဆင့်သယ်ယူ၍ သိုလှောင်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ရေအရင်းအမြစ်နှင့် မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီးမှ မတော်တဆမှုနှင့် သဘာဝဘေးအန္တရာယ်ကြောင့် စက်သုံး

ဆီယိုဖိတ်မှု ကာကွယ်ရေး အစီအမံများနှင့် တုံ့ပြန်ဆောင်ရွက်ရမည့် အစီအစဉ်များကိုရေး ဆွဲဆောင်ရွက်ရန်နှင့် ယိုဖိတ်မှုရှိပါက သက်ဆိုင်ရာဌာနများမှ ထုတ်ပြန်ထားသော ဥပဒေ များနှင့်အညီ အရေးယူ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီ အမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသ ကြီးမှလည်း ရည်ညွှန်း (၂) ပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားခဲ့ပြီး ဖြစ်ကြောင်း၊

(ဆ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေကို ရာခိုင်နှုန်းတစ်ခုခုသတ်မှတ်၍ သင်္ဂဟ ဖောင်ဒေးရှင်းမှတစ်ဆင့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဇ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၊ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပ ဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက် သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ ရင်းနှီးမြှုပ်နှံရန် အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Denko Trading Co., Ltd. မှ စက်သုံးဆီ သိုလှောင်ဖြန့်ဖြူးရောင်းချသည့် သိုလှောင်ရေး စခန်းတည်ဆောက်ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် မြစ်ကြောင်းများနှင့် ကုန်းတွင်းဆီသယ် ယူပို့ဆောင်ခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းလုပ်ငန်းအဆင့်ဆင့်ဆောင်ရွက်ရာ၌ ဆီယို ဖိတ်မှုကြောင့် ပတ်ဝန်းကျင် ရေထု၊ လေထု၊ မြေထု ညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မတော်တဆမှုနှင့် ပေါ့ဆမှုကြောင့် မီးဘေးအန္တရာယ် နှင့်ပတ်ဝန်းကျင်ထိခိုက်နိုင်မှုများ ဖြစ်ပေါ်စေနိုင်ခြင်း၊

(ဂ) လုပ်ငန်းသုံးစက်၊ ယာဉ်ယန္တယားများနှင့် စက်သုံးဆီအညစ်အကြေး စွန့်ပစ်ပစ္စည်း၊ အရည် များကြောင့် ရေ/မြေ ညစ်ညမ်းမှုဖြစ်ပေါ်နိုင်ပြီး စီမံကိန်းဧရိယာအနီးတဝိုက်ရှိ ပြည်သူတို့၏ ကျန်းမာရေးအား ထိခိုက်မှုဖြစ်စေနိုင်ခြင်း။

(ဃ) တည်ဆောက်ရေးလုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများ၊ လုပ်ငန်းသုံးစွန့်ပစ်ပစ္စည်း များကြောင့် မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်စေနိုင်ခြင်း၊

(င) စက်သုံးဆီ သိုလှောင်ဖြန့်ဖြူးရောင်းချသည့် သိုလှောင်ရေး စခန်းတည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ဆီပန့်မှအလွန်သေးငယ်သော အမှုန်အမွှားများ ကာဗွန်ဒိုင်အောက်ဆိုဒ်၊ ကာဗွန်မိုနောက်ဆိုဒ် အစရှိသည့် ဓာတ်ငွေ့များ၊ ထုတ်လွှတ်အခိုးအငွေ့များ ထွက်ရှိခြင်း ကြောင့် လေထုညစ်ညမ်းခြင်း၊ ပြည့်စုံကောင်းမွန်သည့် ကာကွယ်ရေးပစ္စည်းများ၊ အရေး ပေါ်တုံ့ပြန်မှုအစီအစဉ်များနှင့် လုပ်ငန်းခွင်လုံခြုံရေးဆိုင်ရာသင်တန်းများ စသည်တို့ကို လိုက်နာဆောင်ရွက်ခြင်းမရှိပါက လုပ်ငန်းခွင်ရှိ ဝန်ထမ်းများ၏ လူမှုရေး/ကျန်းမာရေးထိ

ခိုက်မှုဖြစ်စေနိုင်ခြင်း၊ မီးဘေးအန္တရာယ် ဖြစ်စေနိုင်ခြင်းစသည့်ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Denko Trading Co., Ltd. မှ စက်သုံးဆီ သိုလှောင်ဖြန့်ဖြူးရောင်းချသည့် သိုလှောင်ရေးစခန်း တည်ဆောက်ခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကို အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် အသားတင်အမြတ်ငွေ၏ ရာခိုင်နှုန်းတစ်ခုခု သတ်မှတ်၍ သင်္ဂဟဖောင်ဒေးရှင်းမှတစ်ဆင့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီအဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသောနယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေး

မည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများ အတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင်နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်၊

၂၃/၁၀/၁၈

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ



တိုင်းဒေသကြီးညွှန်ကြားရေးမှူးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီး
ရန်ကုန်မြို့
စာအမှတ်၊ ရက-၁/၃/၄( EIA ) (၆၀၉ /၂၀၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဩဂုတ်လ ၁၅ ရက်

သို့
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၏ ၁-၆-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ ၃/၆-၂ (၄၅) စိုက်မွေး

၁။ အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ ရည်ညွှန်းပါစာဖြင့် Denko Trading Co., Ltd မှ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်း စက်မှုဇုန်အတွင်း ဧက (၄၀) အကျယ်အဝန်းရှိမြေ၏ (၇) ဧကတွင် ဂါလံ (၁၅၀,၀၀၀) ဆံ့ Storage Tank (၅) လုံးအား နိုင်ငံတကာစံချိန်စံညွှန်းနှင့်အညီ သတ်မှတ်ထားသော စည်းကမ်းချက်များအတိုင်း ဆောင်ရွက်သွားမည်ဖြစ်ကြောင်း နှင့် စီမံကိန်းတည်ဆောက်ပြီးနောက် ဝန်ထမ်း (၂၀၀) ခန့်အတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိနိုင်မည်ဖြစ်ကြောင်း၊ ဆီဘောက်ဆာကားများအနေဖြင့် သီလဝါအထိသွားရောက်သယ်ယူရန်မလိုတော့သဖြင့် ရန်ကုန်မြို့တွင်းယာဉ်ကြောပိတ်ဆို့မှုများ လျော့နည်းသွားမည်ဖြစ်ပါကြောင်း တင်ပြလျှောက်ထားလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ညွှန်ကြားလာပါသည်။

၂။ အဆိုပြုလုပ်ငန်း တည်ဆောက်လည်ပတ်ခြင်းကြောင့် အောက်ဖော်ပြပါ ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှုများ ဖြစ်ပေါ်နိုင်ပါသည်-

(က) မြစ်ကြောင်းများ နှင့် ကုန်းတွင်း ဆီသယ်ယူပို့ဆောင်ခြင်းတို့မှ ဆီယိုဖိတ်မှုဖြစ်ပေါ်ပါက ရေထု၊ မြေထု ညစ်ညမ်းမှုများဖြစ်ပေါ်ကာ ပတ်ဝန်းကျင်ထိခိုက်နိုင်ခြင်း၊

(ခ) မတော်တဆမှုများနှင့် ပေါက်ကွဲမှုများကြောင့် မီးဘေးအန္တရာယ်ဖြစ်ပေါ်နိုင်ခြင်း၊

(ဂ) လုပ်ငန်းသုံး မော်တော်ယာဉ်နှင့် စက်ယန္တရားများလည်ပတ်မှုကြောင့် အသံဆူညံမှုများနှင့် လေထုညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ခြင်း၊

(ဃ) တည်ဆောက်ရေးလုပ်ငန်းမှ ထွက်ရှိသည့် စွန့်ပစ်ပစ္စည်းများ၊ လုပ်ငန်းသုံးစွန့်ပစ်ပစ္စည်းများကြောင့် မြေထုနှင့် ရေထုညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊

(င) ပြည့်စုံကောင်းမွန်သည့် ကာကွယ်ရေးပစ္စည်းများ၊ အရေးပေါ်တုံ့ပြန်မှုအစီအစဉ်များ နှင့် လုပ်ငန်းခွင်လုံခြုံရေးဆိုင်ရာ သင်တန်းများ စသည်တို့ ဆောင်ရွက်ခြင်းမရှိပါက လုပ်ငန်းခွင်ရှိဝန်ထမ်းများ၌ လူမှုရေး/ကျန်းမာရေး ထိခိုက်မှုများဖြစ်ပေါ်နိုင်ခြင်း။

၃။ သို့ဖြစ်ပါ၍ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်အတွင်း ဧက (၄၀) အကျယ်အဝန်းရှိမြေ၏ (၇) ဧကတွင် ဂါလံ (၁၅၀,၀၀၀) ဆံ့ Storage Tank (၅) လုံး တည်ဆောက်၍ စက်သုံးဆီဖြန့်ဖြူးခြင်းလုပ်ငန်းဆောင်ရွက်ရန်ကိစ္စအပေါ် Denko Trading Co., Ltd အနေဖြင့် အောက်ဖော်ပြပါအတိုင်း ဆောင်ရွက်သွားရမည်ဖြစ်ကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံး လုပ်နည်း အပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၅)၊ (၄၆) တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (EIA) မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန ၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၄၇) မှ အပိုဒ် (၅၄) အထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ် ခြင်း အစီရင်ခံစာ နှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့် အညီ လေ့လာဆန်းစစ်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန သို့ တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာပါ အချက် အလက်များအပေါ် အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံး လုပ်နည်းအပိုဒ်(၆၃)ပါအချက်နှင့်အညီ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း အစီရင်ခံစာ (EIA) ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီး ဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) ပြဋ္ဌာန်းထုတ်ပြန်ပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေများ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင် ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့် အချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့် ပုံစံများ ဖြည့်စွက်၍ တစ်ပါတည်း တင်ပြရန်၊

(ဆ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

ခင်သီတာတင်
၁၅၊၈၊၂၀၁၇

(ခင်သီတာတင်)
ညွှန်ကြားရေးမှူး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီး

တ္တူကို

ဝန်ကြီး၊ စိုက်ပျိုးရေး၊ မွေးမြူရေး၊ သစ်တောနှင့် စွမ်းအင်ဝန်ကြီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့

ရုံးလက်ခံ၊ မျှောစာတွဲ